ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ခွင့်ပြုမိန့်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် စာအမှတ် ၇၀၈-၁ ရက်စွဲ ၂၉-၅-၂၀၁၅

ခွင့်ပြုမိန့် အမှတ်၊မနသ -၁၀၅၇/၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ မေလ ၂၉ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးစိုင်းမြင့်သိန်း

(ခ) **အဘ အမည်** ဦးကျွန်းကျုံး (ခ) ဦးမောင်အေး

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/သပန(နိုင်) ၀၃၃၈၁၀

(ဃ) **နေရပ်လိပ်စာ** အမှတ် (၄၉၆/၅၀၀ )၊ ၃-လွှာ၊ ၆-ရပ်ကွက်၊ ကမ်းနားလမ်း၊ လမ်းမတော်မြို့နယ် ၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Yangon Poly Bag Co., Ltd. (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက် )

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ်အိတ်ပါးပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ် ၊ တောင်ဒဂုံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ် (၂၄၇/ဘီ) ရှိ မြေဧရိယာ ၃.၆၂ ဧက (၁၄,၆၄၉.၆၃၃၂ စတုရန်းမီတာ)

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၄,၂၂၆.၂၂၅ သန်း (အမေရိကန်ဒေါ်လာ ၃.၁၆၉ သန်း အပါအဝင် ကျပ်သန်းပေါင်း လေးထောင့်နှစ်ရာနှစ်ဆယ့်ခြောက်နှင့် နှစ်သိန်းနှစ်သောင်းငါးထောင်တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ★ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ★
စာအမှတ် ၇၀၈-၈
ရက်စွဲ ၂၉-၅-၂၀၁၅



# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၄၉ /၂၀၁၅(မနသ)

၂၀၁၅ ခုနှစ် မေလ ၂၉ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီ လီမိတက်)သည် မြေကွက်အမှတ် (၂၄၇/ဘီ)၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ တောင်ဒဂုံစက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၃.၆၂ ဧက (၁၄,၆၄၉.၆၃၃၂ စတုရန်းမီတာ) တွင် Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ် အိတ်ပါးပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၅ ခုနှစ် မေလ ၁၈ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉/၂၀၁၅ ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီ လီမိတက်) အား Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ် အိတ်ပါး ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၀၅၇/၂၀၁၅ ကိုထုတ်ပေးလိုက်သည်။

၂။ Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ် အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ၂၀(ဋ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ် ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့် အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက် များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေနှင့် အဆောက်အဦ အငှားချထားသူ အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက် နှင့် အငှားချထားခြင်းခံရသူ Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်) တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင် ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့ တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက် ရမည်။

၈။ Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်) သည် အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်း စေရေး တို့အတွက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ပေးပို့ အစီရင်ခံရမည်။

၉။ Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်) သည် နိုင်ငံခြား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမား များ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင်အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံ

ရေးပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး နှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၁၀။ Yangon Poly Bag Co.,Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက် ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ် စေရန် သင်တန်းများပေးရမည်။

၁၁။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထား သည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက် မကွက်** အစီရင်ခံရမည်။

၁၂။ Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်) သည် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေး ရေးဦးစီးဌာန တွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၃။ Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက် မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည် ဖော်မှု အခြေအနေများကို သတ်မှတ် ထားသော ပုံစံဇယားများဖြင့် (သုံး)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက်တင်ပြ ၍အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၅။ Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသောသည့်ဆဲ စည်းမျဥ်း စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၃ / မ- ၁၁၉၈ / ၂၀၁၅ (၇၀၈-စ)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၂၉ ရက်

**ဖြန့်ဝေခြင်း**

**သမ္မတဦးစီးရုံး**

**ဒုတိယသမ္မတ(၁)ဦးစီးရုံး**

**ဒုတိယသမ္မတ(၂)ဦးစီးရုံး**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ဥက္ကဋ္ဌ၊ CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးနှင့်စားသုံးသူရေးရာဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Yangon Poly Bag Co., Ltd (ရန်ကုန် ပိုလီအိတ် ကုမ္ပဏီ လီမိတက်)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်၏ ကော်မရှင်
အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၃၀-၃-၂၀၁၅ | - | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၈-၄-၂၀၁၅ | ၂၅-၄-၂၀၁၅ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန | ၈-၄-၂၀၁၅ | ၆-၅-၂၀၁၅ | |
| | - စက်မှုဝန်ကြီးဌာန | ၈-၄-၂၀၁၅ | ၃၀-၄-၂၀၁၅ | |
| | - CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ | ၈-၄-၂၀၁၅ | ၅-၅-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | (၁၄/၂၀၁၅) ၆-၄-၂၀၁၅ | - | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်း ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၈-၄-၂၀၁၅ | | |
| ၅ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၂၃-၄-၂၀၁၅ | | |
| ၆ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ (၇)စုံ ပေးပို့ခြင်း | ၁၁-၅-၂၀၁၅ | | |
| ၇ | **စုစုပေါင်းကြာမြင့်ရက်** | **(၄၃)ရက်** | | |

**အကြောင်းအရာ။** **ရန်ကုန် ပိုလီအိတ် ကုမ္ပဏီ လီမိတက်မှ Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ် အိတ်ပါးပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်းသည့် အဓိက အချက်အလက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးစိုင်းမြင့်သိန်း (အဘ-ဦးကျန်းကျုံး(ခ) ဦးမောင်အေး) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရန်ကုန် ပိုလီအိတ် လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ် အိတ်ပါးပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၄ ။ | လုပ်ငန်းတည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် တောင်ပိုင်းမြို့နယ်၊ တောင်ဒဂုံစက်မှုဇုန်၊ မူဆယ်လမ်း၊ မြေတိုင်းရပ်ကွက် အမှတ်-၂၃၊ အမှတ် (၂၄၇/ဘီ) |
| ၅။ | မြေပိုင်ရှင် | အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက် |
| | မြေအကျယ်အဝန်း | မြေဧရိယာ ၃.၆၂ဧက (၁၄,၆၄၉.၆၃၃၂ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | -အလျား ၂၃၀ ပေ x အနံ ၁၄၄ ပေ RC နှစ်ထပ် စက်ရုံ အဆောက်အဦ ၁ လုံး<br>-အလျား ၆၀ ပေ x အနံ ၃၀ ပေ ဂိုဒေါင် ၁ လုံး |
| | မြေငှားရမ်းကာလ | - ကနဦး ၃၀ နှစ် (၅ နှစ် ၁ ကြိမ် သက်တမ်းတိုး) |
| | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ<br>အဆောက်အဦငှားရမ်းခ | - ငှားရမ်းခကိုတစ်လလျှင် ကျပ် ၂,၅၀၀,၀၀၀ (ကျပ်နှစ်ဆယ့်ငါးသိန်းတိတိ) နှုန်းဖြင့် တစ်နှစ်လျှင် ကျပ် ၃၀,၀၀၀,၀၀၀ (ကျပ်သိန်းသုံးရာတိတိ) ဖြစ်ပါသည်။ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၃၀ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၄,၂၂၆.၂၂၅ သန်း ( US$ ၃.၁၆၉ သန်း အပါအဝင် ) |
| | ထည့်ဝင်သည့် အမျိုးအစား | |

| | ကျပ်(သန်း) | US$ (သန်း) | ကျပ်(သန်း)<br>စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၅၀၀.၀၀၀ | - | ၅၀၀.၀၀၀ |
| စက်ပစ္စည်းကိရိယာများတန်ဖိုး ပမာဏ (ပြည်တွင်း/ပြည်ပ) | ၂၆၃.၀၀၀ | ၃.၁၆၉ | ၃၅၁၁.၂၂၅ |
| အဆောက်အအုံ(ပြုပြင်မွမ်းမံစရိတ်) | ၂၀၀.၀၀၀ | - | ၂၀၀.၀၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ(ပြည်တွင်း) | ၁၅.၀၀၀ | - | ၁၅.၀၀၀ |
| **စုစုပေါင်း** | **၉၇၈.၀၀၀** | **၃.၁၆၉** | **၄,၂၂၆.၂၂၅ သန်း (US$ ၃.၁၆၉ သန်း အပါအဝင် )** |

| | | |
|---|---|---|
| ၈။ | တည်ဆောက်ရေးကာလ | - (၁)နှစ် |
| ၉။ | ကုမ္ပဏီ၏ဝင်ငွေ (ဆဌမနှစ်) | - ကျပ် ၃,၆၉၀.၀၀၀ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ်(ဆဌမနှစ်) | - ကျပ် ၂,၆၂၇.၇၈၆ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဌမနှစ်) | - ကျပ် ၁,၀၆၂.၂၁၄ သန်း |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဌမနှစ်) ဝင်ငွေခွန် | - ကျပ် ၃၅၄.၀၇၁ သန်း |
| ၁၁။ | အရင်းကြေကာလ | - ၄ နှစ် ၄လ |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၄ % |
| ၁၃။ | ရောင်းချပုံ နည်းစနစ် | - ၁၀၀ % ပြည်ပသို့တင်ပို့မည်ဖြစ်ပါသည်။ |
| ၁၄။ | ထုတ်လုပ်မှု နှင့် CMP လက်ခနှုန်း (၆နှစ်မြောက်) | |

| အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (MT) | CMP လက်ခနှုန်း US $ (000)/MT |
|---|---|---|
| (a) Garbage bag for Tokyo (Flat-type: 45 L/70L/90L) | ၇၂၀ | ၁၈၀ |
| (b) Garbage bag for MIEBASHI (Flat - type :20L/30L/45L/U-type: 20L/30L/45L) | ၃၆၀ | ၉၀ |
| (c) Garbage bag for CHIBA (Flat - type :20L/30L/45L) | ၃၆၀ | ၉၀ |
| (d) Shopping Bag/T-Shirt Style (C-pack &D-pack No.8/12/ 20/ 30/ 45/80) | ၁,၄၄၀ | ၃၆၀ |
| (e) Garbage bag/T-Shirt Style ( 30L/45L)Item:U-2/U-5/U-6) | ၇၂၀ | ၁၈၀ |
| (f) Garbage bag/ PB products (Flat-type 45L) Item:2-50/5-100/ 5-15) | ၇၂၀ | ၁၈၀ |
| (g) Garbage bag for products (Flat - type : 45L)Item: K-83/ K-93/K-160) | ၇၂၀ | ၁၈၀ |
| (h) Garbage bag for business use (Flat - type : 45L/70L/90L/120L) Item: GH-11/Gh-12/JL70/JL90/ 6-3/7-3/8-1) | ၁,၀၈၀ | ၂၇၀ |
| (i) Kitchen bag/Item:3-32/K-14/ 3-35/B-12 | ၁,၀၈၀ | ၂၇၀ |
| (j) Garbage bag (Flat - type :45L) | ၃,၆၀၀ | ၉၀၀ |
| (k) Shopping bag/T-shirt Style (No.8~No.80) | ၃,၆၀၀ | ၉၀၀ |

| | | |
|---|---|---|
| ၁၅။ | ဝန်ထမ်းအင်အား စုစုပေါင်း<br>ပြည်တွင်း<br>ပြည်ပ | - ၂၉၉ ဦး<br>၂၉၈ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၉၅,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၂၀၀,၀၀၀<br>၁ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှ US$ ၂၀၀၀ ) |
| ၁၆။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁,၅၀၀ KVA |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်ငွေ ၏ ၂% ကို Corporate Social Responsibility အဖြစ်အသုံး ပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | မီးဘေးကာကွယ်ရေး အစီအစဉ် | - ရေဂါလံ (၂၀,၀၀၀)ဆံ့ ရေကန်ကို တည်ဆောက်ထားရှိမည်ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦမှာလည်း မီးလောင်မှုမှ ကာကွယ်ရန် သံကူကွန်ကရစ်နှင့် သံထည်ပစ္စည်းများဖြင့် တည်ဆောက်ထားပြီး ရေပုံး၊ မီးကတ်၊ သဲအိတ်၊ မီးသတ်ဗူးများကို အဆင်သင့်ထားရှိမည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ အရေးပေါ် အခြေအနေပေါ်ပေါက်ပါက လုပ်ဆောင်ရန် အချက်များအား တိကျစွာ လိုက်နာရေးအတွက် ဝန်ထမ်းများအား ညွှန်ကြားထားမည်ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားကြောင်း တင်ပြထားပါသည်။ |
| ၁၉။ | အခြား | - ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်၏ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများကိုတင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Yangon Poly Bag Co., Ltd. အမည်ဖြင့် AYEYARWADY Bank ဘဏ်တွင် ၂၂-၄-၂၀၁၅ ရက်စွဲဖြင့် USD ၁၀၀,၁၉၆.၇၀ ရှိကြောင်း နှင့် AYEYARWADY Bank တွင် ၂-၄-၂၀၁၅ ရက်စွဲဖြင့် ကျပ် ၂၂၅,၁၀၉,၉၅၀.၀၀ ရှိကြောင်း အထောက်အထားများ တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - Yangon Poly Bag Company Limited |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ် အိတ်ပါးပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ် (၂၄၇/ဘီ)၊ မူဆယ်လမ်း၊ တောင်ဒဂုံစက်မှုဇုန်(၁)၊ ဒဂုံမြို့သစ်တောင်ပိုင်း မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၃.၆၂ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၄,၂၂၆.၂၂၅ သန်း(US$ ၃.၁၆၉ သန်း အပါအဝင်) |
| အရင်းကြေကာလ | - ၄ နှစ် ၄ လ |
| IRR | - ၂၄ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၁.၆၈၀(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၂၇.၃၇၅ | - |
| ၄ | ဝင်ငွေခွန် | ၁၁၂၂.၆၂၂ | ၇၂၉.၇၀၂ |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | - | ၁၆၁၀.၀၀၀ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ် ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၈၀)ဦး |
| ၇ | CSR (၂ %) | - | ၁၃၃.၅၆၂ |
| ၈ | မြေငှားရမ်းခရငွေ | - | ၂၁၀၀.၀၀၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၂၉၈) ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | | ကျပ် ၁၃၅၁.၆၇၇ သန်း | ကျပ် ၄၅၇၅.၄၅၉ သန်း |
| | Cost : Benefit | ၁ : ၄ | |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၃/ မ-၁၁၉၈/၂၀၁၅( ၆၃၉-၁ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၁၂ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ **ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်မှ Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ် အိတ်ပါးပစ္စည်းများထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်သည် မြေကွက်အမှတ် (၂၄၇/ဘီ)၊ မူဆယ်လမ်း၊ တောင်ဒဂုံစက်မှုဇုန်(၁)၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၃.၆၂ ဧက (၁၄,၆၄၉.၆၃၇၂ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ် အိတ်ပါးပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုင်းမြင့်သိန်း (အဘ-ဦးကျန်းကျိုး(ခ) ဦးမောင်အေး) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၃၀ နှစ် နှင့် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုး ဖြစ်ပါသည်။ အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်ပိုင် မြေနှင့်အဆောက်အဦအား ငှားရမ်းဆောင်ရွက်မည်ဖြစ်ပြီး အလျား ၂၃၀ ပေ x အနံ ၁၄၄ ပေ RC နှစ်ထပ် စက်ရုံအဆောက်အဦ ၁ လုံး နှင့် အလျား ၆၀ ပေ x အနံ ၃၀ ပေ ဂိုဒေါင် ၁ လုံးတို့ ပါဝင်ပါသည်။ ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်သည် မြေနှင့်အဆောက်အဦအား ကနဦး(၃၀) နှစ်ဖြင့်ငှားရမ်းပြီး (၃၀)နှစ်ပြည့်သောအခါတွင် တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် နှစ်ကြိမ် သက်တမ်းတိုးမြှင့်နိုင်ပြီး၊ ငှားရမ်းခကို တစ်လလျှင် ကျပ် ၂,၅၀၀,၀၀၀(ကျပ်နှစ်ဆယ့်ငါးသိန်းတိတိ) နှုန်းဖြင့် တစ်နှစ်အတွက် ကျပ် ၃၀,၀၀၀,၀၀၀ (ကျပ်သိန်းသုံးရာတိတိ) ပေးချေရမည်ဖြစ်ကြောင်း၊ နှစ်စဉ်ငှားရမ်းခကို (၅) နှစ် (၁) ကြိမ် ပြီးခဲ့သော (၅) နှစ်တာကာလ ငှားရမ်းခနှုန်းထားများ၏ ၁၅% ထက်မပိုစေပဲ ညှိနှိုင်း ပြင်ဆင်သတ်မှတ် ခွင့်ရှိကြောင်း တင်ပြထားပါသည်။ ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်အနေဖြင့် Contract Manufacturing Process (CMP) စနစ်ဖြင့် ဆောင်ရွက်ရန် စင်ကာပူနိုင်ငံရှိ Guten Investment Pte Ltd. နှင့် Yangon Poly Bag Co., Ltd. တို့ချုပ်ဆိုထားသည့် Memorandum of Understanding-MOU) အား တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ် ၄,၂၂၆.၂၂၅ သန်း(US$ ၃.၁၆၉ သန်း အပါအဝင်)ဖြစ်ပြီးအဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေပမာဏ | ၅၀၀.၀၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (ပြည်တွင်း/ပြည်ပ) | ၃,၅၁၁.၂၂၅ (US$ ၃.၁၆၉ သန်း အပါအဝင်) |
| (ဂ) | အဆောက်အအုံ(ပြုပြင်မွမ်းမံစရိတ်) | ၂၀၀.၀၀၀ |
| (ဃ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများတန်ဖိုးပမာဏ (ပြည်တွင်း) | ၁၅.၀၀၀ |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | ၄,၂၂၆.၂၂၅ |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း(၂၉၈) ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၁)ဦး စုစုပေါင်း(၂၉၉)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၉၅,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ မှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပါ သည်။ ပြည်ပမှ ဝန်ထမ်းတစ်ဦး၏ လစာမှာ US $ ၂,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသောကုန်ချောများကို ၁၀၀% ပြည်ပသို့ တင်ပို့မည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှု နှင့် CMP လက်ခနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (MT) | CMP လက်ခနှုန်း US $(000)/MT |
|---|---|---|
| (a) Garbage bag for Tokyo (Flat-type: 45 L/70L/90L) | ၇၂၀ | ၁၈၀ |
| (b) Garbage bag for MIEBASHI (Flat - type :20L/30L/45L/U-type: 20L/30L/45L) | ၃၆၀ | ၉၀ |
| (c) Garbage bag for CHIBA (Flat - type :20L/30L/45L) | ၃၆၀ | ၉၀ |
| (d) Shopping Bag/T-Shirt Style (C-pack & D-pack No.8/12/ 20/ 30/ 45/80) | ၁,၄၄၀ | ၃၆၀ |
| (e) Garbage bag/T-Shirt Style (30L/45L) Item:U-2/U-5/U-6) | ၇၂၀ | ၁၈၀ |
| (f) Garbage bag/ PB products (Flat-type 45L) Item:2-50/5-100/ 5-15) | ၇၂၀ | ၁၈၀ |
| (g) Garbage bag for products (Flat - type : 45L)Item: K-83/K-93/K-160) | ၇၂၀ | ၁၈၀ |
| (h) Garbage bag for business use (Flat - type : 45L/70L/90L/120L) Item: GH-11/Gh-12/JL70/JL90/ 6-3/7-3/8-1) | ၁,၀၈၀ | ၂၇၀ |

| | | | |
|---|---|---|---|
| (i) | Kitchen bag/Item:3-32/K-14/ 3-35/B-12 | ၁,၀၈၀ | ၂၇၀ |
| (j) | Garbage bag (Flat - type :45L) | ၃,၆၀၀ | ၉၀၀ |
| (k) | Shopping bag/T-shirt Style (No.8~No.80) | ၃,၆၀၀ | ၉၀၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆-နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃,၆၉၀.၀၀၀ |
| (ခ) | အသုံးစရိတ် | ၂,၆၂၇.၇၈၆ |
| (ဂ) | အသားတင်အမြတ် | ၁,၀၆၂.၂၁၄ |

**မှတ်ချက်။ အမေရိကန်တစ်ဒေါ်လာလျှင် ၁,၀၂၅ ကျပ်နှုန်း ဖြင့်တွက်ချက်ထားပါသည်။**

၇။ နိုင်ငံတော်မှ ၆-နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန်ကျပ် ၃၅၄.၀၇၁ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ် ၄ လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း (IRR) မှာ ၂၄ % ဖြစ်ပါသည်။

၈။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာနနှင့် CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက ပြည်တွင်း လုပ်သားအင်အား (၂၉၈)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့် အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ၂၀၁၅ ခုနှစ် ဧပြီလ ၂၃ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၂၀/၂၀၁၅ ဆုံးဖြတ်ချက်အပိုဒ်(၃)အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအားခွင့်ပြု သင့်ပါကြောင်းသဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း

လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြား ထားပါသည်-

(၁) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်။

(၂) လုပ်ငန်းဆောင်ရွက်ခြင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်ရေများအား ပြန်လည်အသုံးပြုသွားရန်နှင့် စွန့်ပစ်မည်ဆိုပါက ပြန်လည်သန့်စင်ပြီးမှ စနစ်တကျ စွန့်ပစ်သွားရန်နှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေးအတွက် အလုပ်သမားများအား လုပ်ငန်းခွင့်သုံး အကာအကွယ် ပစ္စည်းများဝတ်ဆင်/ တပ်ဆင်ဆောင်ရွက်ရန်။

(၃) ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျှော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan - EMP) ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါသည်။**

**(နောက်ဆက်တွဲ - ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန**မှ လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ကြောင်း၊ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး အစီအမံများကို စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်

ရန် လိုအပ်ကြောင်း၊ ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ကိုက်ညီမှုရှိပါကြောင်းပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဂ)**

(ဃ) **CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ**မှ အဆိုပါပစ္စည်း (၁၁) မျိုးထုတ်လုပ်ရာတွင် အဓိက Poly Ethylene ကုန်ကြမ်း(၃)မျိုးနှင့် Polypropylene ကုန်ကြမ်း(၁) မျိုးသုံးစွဲမည်ဖြစ်ပြီး ပထမနှစ် ထုတ်လုပ်မည့် ကုန်ချောအရေအတွက်မှာ 9600 M/T ဖြစ်ပြီး Raw Material အဆိုပြုလိုအပ်ချက်ကုန်ကြမ်း(၄) မျိုးအတွက် အရေအတွက် စုစုပေါင်း 10973.52 Tons ဖြစ်၍ ကိုက်ညီမှုရှိပါကြောင်း၊ ပထမနှစ် ထုတ်လုပ်မည့် ကုန်ချောအရေအတွက်မှာ 9600 M/T ဖြစ်ပြီး CMP လက်ခနွန်းထားများစွာရရှိသဖြင့် အမြတ်များစွာရရှိသည့်အတွက် ဆီလျော်မှုရှိကြောင်း၊ အဆိုပြုချက်တွင် စက်အလုံးရေ ၃၇ လုံးတွင် Flim Production Workers ၁၁၂ ဦး၊ Bag Making Workers နှင့် Other Workers ၁၄၁ ဦး၊ စုစုပေါင်း ၂၅၃ ဦးဖြင့် ဆောင်ရွက်ပါက ပစ္စည်းအမျိုးအစား (၁၁) မျိုးအရေအတွက်အားဖြင့် 9600 M/T မှစ၍ နှစ်အလိုက် တိုးမြှင့်ဆောင်ရွက်မည်ဖြစ်ပြီး စက်အလုံးရေ ၃၇ လုံးတွင် Workers ၂၅၃ ဦး ကို တစ်ရက်လျှင် အဆိုင်း (၃) ဆိုင်းဖြင့် နေရာချထား၍ Line Process များတွင် ပုံစံထုတ်လုပ်ခြင်း၊ ဖြတ်တောက်ခြင်း၊ ကော်ကပ်ခြင်း၊ ဆေးခြယ်ခြင်း၊ Quality Control စစ်ဆေးခြင်းနှင့် ထုတ်လုပ်ခြင်းများ ဆောင်ရွက်နိုင်မည်ဖြစ်၍ နှစ်စဉ် ထုတ်လုပ်မှု၊ စက်အင်အားနှင့် လူအင်အား အချိုးအစား ညီမျှမှုရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဃ)**

၉။ Yangon Poly Bag Co., Ltd. အမည်ဖြင့် AYEYARWADY Bank ဘဏ်တွင် ၂၂-၄-၂၀၁၅ ရက်စွဲဖြင့် USD ၁၀၀,၁၉၆.၇၀ ရှိကြောင်း နှင့် AYEYARWADY Bank တွင် ၂-၄-၂၀၁၅ ရက်စွဲဖြင့် ကျပ် ၂၂၅,၁၀၉,၉၅၀.၀၀ ရှိကြောင်း အထောက်အထားများ တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှမည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့်စည်းကမ်းချက်များကိုလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှုအတွက် ရေဂါလံ (၂၀,၀၀၀)ဆံ့ ရေကန်ကို တည်ဆောက်ထားရှိမည်ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦမှာလည်း မီးလောင်မှုမှကာကွယ်ရန် သံကူကွန်ကရစ်နှင့် သံထည်ပစ္စည်းများဖြင့် တည်ဆောက်ထားပြီး ရေပုံး၊ မီးကတ်၊ သဲအိတ်၊ မီးသတ်ဗူးများကို အဆင်သင့်ထားရှိမည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါကြောင်း၊ အရေးပေါ် အခြေအနေပေါ်ပေါက်ပါက

လုပ်ဆောင်ရန်အချက်များအား တိကျစွာလိုက်နာရေးအတွက် ဝန်ထမ်းများအား ညွှန်ကြားထားမည်ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်၊ တိုင်းဒေသကြီး၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် မှတ်ပုံတင် ထားရှိမည်ဖြစ်ကြောင်း၊ ပြည်ပမှဝယ်ယူတပ်ဆင်ထားသည့် စက်ပစ္စည်းများသည်အသုံးပြု၍ရသော စက်ပစ္စည်းများဖြစ်ကြောင်း၊ ပြည်ပပို့ကုန်မှရရှိသောနိုင်ငံခြားငွေများကို MICB(သို့မဟုတ်) MFTB ရှိ ကုမ္ပဏီ၏ငွေစာရင်းသို့ မပျက်မကွက်ပေးသွင်းမည်ဖြစ်ကြောင်း၊ လုပ်ငန်းအတွက် ကုန်ပစ္စည်းများ တင်သွင်း/တင်ပို့ရာတွင် ရေကြောင်း/ကုန်းကြောင်း ခရီးတို့ဖြင့်သာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်သားများအတွက် ဝန်ထမ်းအိမ်ယာများကို လိုအပ်သလို တည်ဆောက်ပေးမည်ဖြစ်ကြောင်း၊ ဗဟုသုတတိုးပွားစေရန် စာကြည့်တိုက် တစ်ခုဖွင့်လှစ်ပေးမည်ဖြစ်ကြောင်း၊ ပန်းခြံများ၊ သစ်ပင်များစိုက်ပျိုး၍ ပတ်ဝန်းကျင်သာယာမှုရှိစေရန် ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း၊ ထမင်းစားဆောင်၊ ရေချိုးခန်းနှင့်အိမ်သာကို အမျိုးသား၊ အမျိုးသမီးခွဲခြားလျက် အလုံအလောက် တည်ဆောက်ထားရှိမည်ဖြစ်ကြောင်း၊ စက်ရုံ၏ ဆူညံခြင်းမရှိစေရန်နှင့်အလင်းရောင်၊ လေဝင်လေထွက်ကောင်းစေရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုံခြုံရေးဂိတ်များ၊ စက်ရုံလုံခြုံရေး၊ ဝန်ထမ်းလုံခြုံရေး၊ အလုပ်သမားများကို ဥပဒေနှင့်အညီ လုပ်ကိုင်စေပြီး တည်ဆဲဥပဒေများကို လိုက်နာစေရန် စီစဉ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ အလုပ်သမားများ၏ လစာကိုလည်းလက်ရှိဖြစ်ပေါ်လျက်ရှိသော လစာနှုန်းထား ထက်မနိမ့်စေပဲ ပေးသွားမည်ဖြစ်ကြောင်း၊ ဝင်ငွေခွန်ပေးဆောင်ခြင်းနှင့် ပတ်သက်၍ ဝန်ထမ်းများ၏ လစာငွေ တစ်နှစ်လျှင် ဝင်ငွေကျပ် သိန်း ၂၀ ထက်ကျော်လွန်ပါက ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် နှုန်းများအတိုင်း ပေးဆောင်ရမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို အစိုးရ၏ မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ မီးမရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက် Generator (450 KVA)(၃)လုံးဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။

၁၃။ ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံတော်ရှိ လူ့အဖွဲ့အစည်းများ၏ လူမှုရေးလှုပ်ရှား ဆောင်ရွက်မှုများအတွက် နှစ်စဉ်အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဧပြီလ ၆ ရက်နေ့တွင် ကျင်းပသော ၁၄/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ ဃ၊ စ၊ဆ၊ ဇ၊ ဈ၊ ည၊ ဠ) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ **ရန်ကုန် ပိုလီအိတ် ကုမ္ပဏီလီမိတက်သည်** မြေကွက်အမှတ် (၂၄၇/ဘီ)၊ မူဆယ်လမ်း၊ တောင်ဒဂုံစက်မှုဇုန်(၁)၊ ဒဂုံမြို့သစ်တောင်ပိုင်း မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၃.၆၂ ဧက (၁၄,၆၄၉.၆၃၃၂ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ် အိတ်ပါးပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၃) / လုံခြုံ
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၂၅ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

M-781
28/4/15

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈. ၄. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ မ-၁၁၉၈ / ၂၀၁၅ (၅၇၀)

၁။ ရန်ကုန်ပိုလီအိတ် ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ တောင်ဒဂုံစက်မှုဇုန်(၁)၊ မူဆယ်လမ်း၊ မြေကွက်အမှတ် (၂၄၇/ဘီ)၊ မြေဧရိယာ ၃. ၆၂ ဧက (၁၄,၆၄၉. ၆၃၃၂ စတုရန်းမီတာ)ပေါ်ရှိ မြေနှင့်အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့် ပလတ်စတစ်အိတ်ပါးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၉၈)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ တောင်ဒဂုံစက်မှုဇုန်(၁)၊ မူဆယ်လမ်း၊ မြေကွက်အမှတ် (၂၄၇/ဘီ)၊ မြေဧရိယာ ၃. ၆၂ ဧက (၁၄,၆၄၉. ၆၃၃၂ စတုရန်းမီတာ)အား ၁ စတုရန်းမီတာလျှင် တစ်နှစ်အတွက် USD ၂. ၀၄၇ နှုန်းဖြင့် ကနဦး ၃၀ နှစ်နှင့် ၅ နှစ် (၂)ကြိမ် သက်တမ်းတိုးငှားရမ်းလုပ်ကိုင်ခြင်းအပေါ် နိုင်ငံသားလုပ်ငန်းရှင် ဖြစ်သည့်အတွက် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/20.,(3)

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂၃. ၄. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၀/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၃)အရ ရန်ကုန်ပိုလီအိတ်ကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံ တင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရန်ကုန်ပိုလီအိတ်ကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၁)/၁၁(က)(၅)/( ၂၅၇ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ မေလ ၆ ရက်

အ-၈၆၈
၈.၅.၁၅

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈ - ၄ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃ / မ - ၁၁၉၈ / ၂၀၁၅ ( ၅၇၁ )

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်ပိုလီအိတ်ကုမ္ပဏီလီမိတက်သည် ရန်ကုန် တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ တောင်ဒဂုံစက်မှုဇုန်(၁)၊ မူဆယ်လမ်း၊ မြေကွက်အမှတ် (၂၄၇/ဘီ)၊ မြေဧရိယာ(၃.၆၂)ဧက (၁၄,၆၄၉.၆၃၃၂ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် ပလတ်စတစ်အိတ်ပါးပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ် ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး နှစ် ( ၃၀ ) ဖြင့် စတင် ဆောင်ရွက်မည်ဖြစ်ပြီး (၅) နှစ် နှစ်ကြိမ် သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ထုတ်လုပ်မည့် ကုန်ပစ္စည်းအမျိုးအစား ၊ အသုံးပြုမည့်စက်ပစ္စည်း နှင့် ကုန်ကြမ်းပစ္စည်းစာရင်း၊ စက်ရုံဝန်ထမ်းများအတွက် သက်သာချောင်ချိရေး နှင့် ကျန်းမာရေးအတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ၊ မီးဘေးလုံခြုံရေး အစီအစဉ်များ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် အတွက် ရေနုတ်မြောင်းများအား ရေစီးရေလာ ကောင်းမွန်အောင် ပြုပြင်ဆောင်ရွက်ခြင်းနှင့် စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်ခြင်းတို့အား ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပြု ပလတ်စတစ်အိတ်ပါးပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် အမှုန်အမွှားများ ၊ စွန့်ပစ်ပစ္စည်းများ ၊ ဆူညံသံများမှ သဘာဝပတ်ဝန်းကျင်ကို ထိခိုက်နိုင်မှုရှိခြင်း ၊ အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများသည် Poly Ethylene နှင့် Polypropylene ကဲ့သို့ ဓာတုပစ္စည်းများ ဖြစ်သဖြင့် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်ခြင်း၊ ယင်းကုန်ကြမ်းပစ္စည်းများကို အသုံးပြုရာ မှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ နှင့်စွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင်ရှိ မြေထု နှင့် ရေထုညစ်ညမ်း မှုဖြစ်ပေါ်စေခြင်း ၊ ပလတ်စတစ်

အိတ်ပါးပြုလုပ်မှု လုပ်ငန်းစဉ်တွင် မီးအပူပေးဆောင်ရွက်ရသဖြင့် အလုပ် သမားများအား အန္တရာယ်ဖြစ်စေနိုင်ခြင်း၊ ပလတ်စတစ် (polymeric material) သည် မီးလောင်ရန် လွယ်ကူသော ပစ္စည်းတစ်မျိုးဖြစ်ပြီး လုပ်ငန်းအဆင့်ဆင့်မှ ထွက်ပေါ်လာမည့် polymeric dust ကြောင့် လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရန်ကုန်ပိုလီအိတ်ကုမ္ပဏီလီမိတက်သို့ ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ တောင်ဒဂုံစက်မှုဇုန် ( ၁ ) ၊ မူဆယ်လမ်း၊ မြေကွက်အမှတ် ( ၂၄၇ / ဘီ )၊ မြေဧရိယာ( ၃.၆၂ )ဧက ( ၁၄,၆၄၉.၆၃၃၂ စတုရန်းမီတာ ) ပေါ်ရှိ မြေ နှင့် အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့် ပလတ်စတစ်အိတ်ပါးပစ္စည်းများထုတ်လုပ် ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) လုပ်ငန်းဆောင်ရွက်ခြင်းမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်ရေများအား ပြန်လည် အသုံးပြုသွားရန်နှင့် စွန့်ပစ်မည်ဆိုပါက ပြန်လည်သန့်စင်ပြီးမှ စနစ်တကျ စွန့်ပစ်သွားရန် နှင့် လုပ်ငန်းခွင်အန္တရာယ်ကင်းရှင်းရေးအတွက် အလုပ်သမားများအား လုပ်ငန်းခွင်သုံး အကာအကွယ်ပစ္စည်းများ ဝတ်ဆင် / တပ်ဆင် ဆောင်ရွက်စေရန်၊

(ဂ) ပတ်ဝန်းကျင် နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်အတွက် လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ် ၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့် လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင် အထည်ဖော် ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူ တို့ နှင့် လူထုတွေ့ဆုံ ဆွေးနွေးပွဲများ ပြုလုပ်ပြီး ၎င်းတို့၏ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

M-831
515

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ (၂)၂၀၁၅-၂၀၁၆(၁၇၅)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈.၄.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၁၉၈/ ၂၀၁၅ (၅၇၂)

၁။ ရန်ကုန်ပိုလီအိတ်ကုမ္ပဏီလီမိတက်သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ တောင်ဒဂုံစက်မှုဇုန်(၁)၊ မူဆယ်လမ်း၊ မြေကွက်အမှတ်(၂၄၇/ဘီ)တွင် CMP စနစ်ဖြင့် ပလတ်စတစ်အိတ်ပါးပစ္စည်းများ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် ပလတ်စတစ်အိတ်ပါးပစ္စည်းများ ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအစီအမံများနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ကိုက်ညီမှုရှိပါသည်။

၎င်း **"အငှားချထားခံရသူ"** သည် စာချုပ်ကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အား ပြည့်စုံသော ကုမ္ပဏီလီမိတက်ဖြစ်ပါ သည်။ ဤစာချုပ်တွင် လက်မှတ်ရေးထိုးသူ နှစ်ဖက်စလုံးသည် ဤသဘောတူ စာချုပ်ချုပ်ဆိုနိုင်ရန် ဥပဒေအရလုပ်ပိုင်ခွင့်အာဏာနှင့် ပြည့်စုံသူများဖြစ်ကြောင်း အာမခံသည်။

## ၃။ ဆောင်ရွက်ရမည့် ဥပဒေသ။

ဤအငှားစာချုပ်ဝင်များသည်၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏တရားဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ စည်းကမ်းများ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးများနှင့်အညီ၊ အငှားစာချုပ်ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန် တာဝန်များကို အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

## ၄။ ငှားရမ်းသည့်အချိန်ကာလ။

CMP (Contract, Manufacturing, Process) စနစ်ဖြင့် ပလတ်စတစ် အိပ်ပါးပစ္စည်းများ ထုတ်လုပ်သည့် စက်ရုံတည်ထောင်ရန် အတွက်ငှားရမ်းမည့် ကာလမှာ ကနဦး(၃၀) နှစ်ဖြစ်ပြီး၊ (၃၀)နှစ်ပြည့်သောအခါတွင်၊ တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့်၊ နှစ်ကြိမ်သက်တမ်း တိုးမြှင့်နိုင်သည်။

## ၅။ ငှားရမ်းခ။

(က) CMP (Contract, Manufacturing, Process) စနစ်ဖြင့် ပလတ်စတစ် အိပ်ပါးပစ္စည်းများ ထုတ်လုပ်သည့် စက်ရုံ တည်ထောင်ရန်အတွက် **"အငှား ချထားခြင်းခံရသူ"** သည် **"အငှားချထားသူ"**သို့ ငှားရမ်းခကို တစ်လလျှင်ကျပ် (၂,၅၀၀,၀၀၀/-) (ကျပ်နှစ်ဆယ့်ငါးသိန်းတိတိ)နှုန်းဖြင့် တစ်နှစ်အတွက် ကျပ် (၃၀,၀၀၀,၀၀၀/-) (ကျပ်သိန်းသုံးရာတိတိ) ပေးချေရမည်။

(ခ) နှစ်စဉ် ငှားရမ်းခကို ငှားရမ်းခ စေ့ရောက်သောနေ့မှ တစ်လအတွင်း တစ်နှစ်အတွက် ကြိုတင် ပေးချေသွားရမည်။

(ဂ) ငှားရမ်းခကို ငါးနှစ်တစ်ကြိမ်၊ ပြီးခဲ့သော ငါးနှစ်တာကာလ ငှားရမ်းခနှုန်းထားများ၏ ၁၅% (တစ်ဆယ့်ငါးရာခိုင်နှုန်း) ထက် မပိုစေဘဲ ညှိနှိုင်း ပြင်ဆင်သတ်မှတ်ခွင့်ရှိသည်။

## ၆။ အငှားစာချုပ်၏ အကျိုးသက်ရောက်မှုနှင့် ကာလ။

(က) ဤအငှားစာချုပ်သည် **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"** တို့ ဤစာချုပ်ပေါ်တွင် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်ရမည်။

(ခ) ငှားရမ်းခြင်းကာလကိုလုပ်ငန်းများစတင်သည့်ရက် သို့မဟုတ် စာချုပ်လက်မှတ်ရေးထိုးပြီး (၃)လ အနက်၊ စောသည့်ရက်မှ စတင်ရေတွက်ရမည်။

(ဂ) ငှားရမ်းခြင်းကာလ ကုန်ဆုံးသောနေ့တွင် အဆိုပါမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံနှင့် မရွှေ့မပြောင်းနိုင်သော ပစ္စည်းများမှအပ ဆက်စပ်လျက်ရှိသော ပစ္စည်းအားလုံးကို **"အငှားချထားခြင်းခံရသူ"**က ပြောင်းရွှေ့ပိုင်ခွင့်ရှိသည်။

၇။ **စာချုပ်သက်တမ်းတိုးခြင်း။**

စာချုပ်သက်တမ်းတိုးခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်နိုင်သည်။

(က) **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက၊ စာချုပ်သက်တမ်းမကုန်ဆုံးမီ၊ အနည်းဆုံး(၃)လကြိုတင်၍ ငှားရမ်းလိုသည့်ကာလကိုဖော်ပြ၍ **"အငှားချထားသူ"**သို့ တင်ပြရမည်။

(ခ) **"အငှားချထားသူ"** က ဆက်လက်ငှားရမ်းလိုပါက ထပ်မံငှားရမ်းသည့် ကာလအတွက် ငှားရမ်းခနှုန်းထားနှင့် စာချုပ်စည်းကမ်းချက်များကို နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီမှုကိုရယူပြီး ဆက်လက်ငှားရမ်းခွင့်ရှိစေရမည်။

(ဂ) စာချုပ်ပါ အငှားသက်တမ်းကုန်ဆုံးပြီးနောက် မြေကို ကောင်းမွန်သော အနေအထားအတိုင်း **"အငှားချထားသူ"**သို့ အဖိုးစားနားမပါရှိပဲ ပြန်လည်လွှဲပြောင်းပေးရပါမည်။

၈။ **"အငှားချထားခြင်းခံရသူ" ၏ တာဝန်များ။**

**"အငှားချထားခြင်းခံရသူ"** ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) **"ငှားရမ်းခ"**ကို အထက်စာအပိုဒ်(၅)တွင်ပါရှိသည့်အတိုင်းပေးချေသွားရန်နှင့် မြေခွန်မှအပ အခြားသောဝန်ဆောင်မှုပေးသည့် သက်ဆိုင်ရာ တာဝန်ရှိ အာဏာပိုင် အဖွဲ့အစည်းများက ကောက်ခံသည့် အခများအတွက် တာဝန်ယူရန်၊

(ခ) အငှားချထားသည့် မြေအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ပိုင်းကို သော်လည်းကောင်း၊ နိုင်ငံသားများကိုဖြစ်စေ၊ နိုင်ငံခြားသားကိုဖြစ်စေ၊ ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းပေးခြင်း သို့မဟုတ် လွှဲအပ်ခြင်းတို့ကို မပြုလုပ်ရန်၊

(ဂ) ငှားရမ်းထားသော မြေပေါ်တွင် CMP (Contract, Manufacturing, Process) စနစ်ဖြင့် ပလတ်စတစ် အိပ်ပါးပစ္စည်းများ ထုတ်လုပ်သည့် စက်ရုံ တည်ထောင်ဆောက်လုပ်ရေးအတွက်သာ အသုံးချရန်၊

(ဃ) ငှားရမ်းမြေပေါ်ရှိ CMP (Contract, Manufacturing, Process) စနစ်ဖြင့် ပလတ်စတစ်အိပ်ပါးပစ္စည်းများ ထုတ်လုပ်သည်နှင့် သက်ဆိုင်သော အရာများပေါ် တွင် **"အငှားချထားခြင်းခံရသူ"**၏ ဆောင်ရွက်ချက်များအားလုံးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများနှင့်အညီဖြစ်ကြောင်း တာဝန်ယူ ကတိပြုရန်၊

(င) အငှားချထားသောမြေပေါ်ရှိ အဆောက်အဦနှင့်လုပ်ငန်းအတွက် လိုအပ်သောအာမခံများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာ့အာမခံဥပဒေများနှင့်အညီထားရှိရမည်။

(စ) ရေဆိုးများ မရှိစေရေးနှင့် စွန့်ပစ်စနစ် တည်ဆောက် အကောင်အထည်ဖော်ရေးနှင့် မြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်း ဥပဒေနှင့် ညွှန်ကြားချက်များနှင့်အညီ၊ ဒေသအလိုက် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရေးတို့အတွက် အစီအမံများပြုလုပ်ရန်၊

(ဆ) ဤအငှားသဘောတူစာချုပ်ကို စာချုပ်စာတမ်းများ မှတ်ပုံတင်အက်ဥပဒေအရ မှတ်ပုံတင်ရမည်။ အငှားသဘောတူစာချုပ်ကို မှတ်ပုံတင်ခြင်းဖြင့် ပေးဆောင်ရမည့် တံဆိပ်ခေါင်းခွန် ကို **"အငှားချထားခြင်းခံရသူ"**က ပေးဆောင်ရမည်။

(ဇ) ငှားရမ်းထားသောအဆောက်အဦကို တိုးတက်ကောင်းမွန်ရန်ပြုပြင် မွမ်းမံတိုးချဲ့ခြင်း လုပ်ငန်းများကို **"အငှားချထားခြင်းခံရသူ"** ၏စရိတ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရမည်။

(ဈ) အငှားစာချုပ်သက်တမ်းကုန်ဆုံးသည့်အချိန်တွင် ငှားရမ်းထားသည့် မြေနှင့်မပြောင်းမရွှေ့နိုင်သောအဆောက်အအုံများကို ကောင်းမွန်သောအခြေအနေအတိုင်း ပြန်လည်လွှဲပြောင်းပေးရမည်။

## ၉။ **"အငှားချထားသူ" ၏ တာဝန်များ။**

**"အငှားချထားသူ"** ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) **"အငှားချထားခြင်းခံရသူ"**သည် အငှားချထားသည့် ငှားရမ်းကာလအတွင်း အငှားချထားသော ပစ္စည်းများကို အေးငြိမ်းချမ်းသာစွာ လက်ဝယ်ထားပိုင်ခွင့် ရှိစေရေးအတွက် **"အငှားချထား သူ"** ကသော်လည်းကောင်း **"အငှားစာချုပ်"** ကို ကိုယ်စားပြုသည်ဟု တရားဝင်ဖော်ထုတ် နိုင်သူကသော်လည်းကောင်း၊ ဤ **"အငှားစာချုပ်"** အတည်ဖြစ်နေသည့် ကာလအတွင်း၊ ဝင်ရောက်စွက်ဖက်ခြင်း သို့မဟုတ် မည်သည့်ပုံစံ သဘာဝအရမဆို အနှောင့်အယှက်ဖြစ်ခြင်းများ မရှိစေရန်။

(ခ) မြေခွန်ကိုပေးဆောင်ရန်။

(ဂ) သက်ဆိုင်ရာ အာဏာပိုင်များထံမှ လိုအပ်သောခွင့်ပြုချက်များနှင့် ပလပ်စတစ်အိပ်ပါး ပစ္စည်းများ ထုတ်လုပ်သည့် စက်ရုံ တည်ဆောက်ရန်အသုံးချမှုအား **"အငှားချထားခြင်းခံရသူ"**ထံသို့ လွှဲပြောင်းပေးအပ်ခြင်းအတွက် လိုအပ်သော ခွင့်ပြုချက်များ ရယူပေးရန်။

## ၁၀။ **"အငှားစာချုပ်" ရုပ်စဲခြင်း။**

(က) ဤ **"အငှားစာချုပ်"**ကို အောက်ဖော်ပြပါအခြေအနေ အဖြစ်အပျက်တစ်ရပ်ရပ် ဖြစ်ပေါ်ပါက ရုပ်စဲနိုင်သည်။

၁။ (က) လုပ်ငန်းတွင်ကြီးမားစွာဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) အငှားသဘောတူစာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင် မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်း မပြုလုပ်နိုင်သော မလွှဲမရှောင်နိုင်သည့် ဖြစ်ရပ်များ (ဖ)လ ထက်ပိုမို ဖြစ်ပေါ်လာခြင်း၊

(ဃ) သဘောတူစာချုပ်၏ မူလရည်မှန်းချက်များကို အကောင်အထည် ဖော်နိုင်စွမ်း မရှိခြင်း၊

(င) **"အငှားချထားသူ"** ကသော်လည်းကောင်း၊ **"အငှားချထားခြင်းခံရသူ"** ကသော်လည်းကောင်း၊ အငှားစာချုပ်ကို **"မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ" အခန်း(၁၁) ပုဒ်မ ၃၉ နှင့် ၄၀** တို့အရ ရပ်စဲလိုကြောင်းစာဖြင့်(၃)လ ကြိုတင်၍ အခြားတစ်ဖက်သို့ အကြောင်း ကြားလာသောအခါ"မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်"သို့တင်ပြပြီးကော်မရှင်၏ သဘောတူညီချက်ရရှိခြင်း။

(စ) **"အငှားချထားခြင်းခံရသူ"** သည် ဤ **"အငှားစာချုပ်"** ချုပ်ဆိုပြီးနောက် ၁၂ (တစ်ဆယ့်နှစ်)လကာလအတွင်း လုပ်ငန်းကို စတင်အကောင်အထည်မဖော်နိုင်ခြင်း

(ဆ) **"အငှားချထားခြင်းခံရသူ"**သည် ဤ**"အငှားစာချုပ်"**ပါ သဘောတူညီချက်များကို ဆောင်ရွက်ရန် သို့မဟုတ်လိုက်နာရန် ပျက်ကွက်ပြီး ထိုပျက်ကွက်ခြင်းများအတွက် ခိုင်လုံသောအကြောင်းပြချက်များမပြလျှင် သော်လည်းကောင်း၊

၂။ သို့သော်ငြားလည်း **"အငှားချထားခြင်းခံရသူ"** သည်၄င်း၏လုပ်ငန်းများ ဆက်လက်ဆောင်ရွက်နိုင်ရန်နှင့် ပြန်လည်တည်ထောင်မှုပြုလုပ်နိုင်ရန်အတွက် သဘောတူစာချုပ်ပါ ၄င်း၏အခွင့်အရေးများကို ခွင်းချက်အဖြစ်သက်သာခွင့် ရရှိစေနိုင်သည်။ ဤအငှား စာချုပ်တွင်ပါရှိသော ပြဋ္ဌာန်းသတ်မှတ်ချက်များနှင့်အညီ နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ် ကိုရပ်စဲလိုပါက၊ ရပ်စဲလိုကြောင်း အကြောင်းကြားစာကို အခြား တစ်ဖက်ထံသို့ (၃)လ ကြိုတင် ၍ ပေးပို့ အသိပေးရမည်။

၃။ အငှားစာချုပ်ရပ်စဲခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှ သာ အတည် ဖြစ်သည်။

(ခ) အကယ်၍ ရပ်စဲခြင်း အထမြောက်ပါက **"အငှားချထားသူ"** သည် **"အငှားစာချုပ်"** တွင်ပါဝင်သော စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ ငှားရမ်းသည့် မြေအပေါ် ပြန်လည်ဝင်ရောက် လက်ရှိထားရှိရန် လုပ်ပိုင်ခွင့်ရှိရမည်။ ထိုအခါတွင် ဤ **"အငှားစာချုပ်"** သည် ရပ်ဆိုင်း၍ အဆုံးသတ်သွားရမည်။

၁၁။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်။

ဤ **"အငှားစာချုပ်"** ကို ဆောင်ရွက်ခြင်းနှင့် အကောင်အထည် ဖေါ်ခြင်းတို့သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအာဏာပိုင်အဖွဲ့ အစည်းများထံမှ လိုအပ်သည့် သဘောတူညီချက်ခွင့်ပြုချက်နှင့် လုပ်ဆောင်ခွင့်ပြုချက်များ ရရှိပြီးမှုအပေါ်တွင် တည်ရှိပါသည်။

၁၂။ လွှမ်းမိုးသည့်ဥပဒေ။

ဤ**"အငှားစာချုပ်"**သည် မြန်မာနိုင်ငံတော်ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်ညွှန်ကြားချက်များနှင့် အညီသာ ဖြစ်စေရမည်။ ထို့အပြင်စာချုပ်နှင့်စပ်လျဉ်းသောကိစ္စအရပ်ရပ် တွင် မြန်မာနိုင်ငံတရားရုံးများ၏ စီရင်ပိုင်ခွင့်ကို နာခံရမည်။

၁၃။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ။

(က) အကယ်၍စာချုပ်ဝင်တစ်ဦးဦးက စာချုပ်ပါတာဝန်များဆောင်ရွက်ရန် သို့မဟုတ် အခြားတစ်ဦး၏ ဆောင်ရွက်မှုကိုလက်ခံရန် ယာယီအားဖြင့် မစွမ်းဆောင်နိုင်သည့် အခြေအနေကို သက်ရောက်စေသော လူတို့မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များ သို့မဟုတ် မည်သည့်ဖက်ကမျှ ကြိုးစားအားထုတ် ဆောင်ရွက်မှုဖြင့် တားဆီးမရနိုင်သောဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ထမ်းဆောင်ရန် ပျက်ကွက်ပါက အဆိုပါမလွှဲမရှောင်နိုင်သည့် ဖြစ်ရပ်များ ပေါ်ပေါက်ကြောင်းကို ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက်အတွင်း အခြားတစ်ဖက်သို့ စာဖြင့်အကြောင်းကြားရမည်။ အခြားတစ်ဖက်ကလည်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ပေါ်ပေါက်ကြောင်းလက်ခံပါကစာချုပ်ချုပ်ဆိုသူ နှစ်ဦးနှစ်ဖက်စလုံးတွင် မည်သည့်တာဝန်မျှမရှိစေရ။ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ ပေါ်ပေါက်သည့် ကာလကို စာချုပ်သက်တမ်းကာလမှထုတ်နုတ်ရန် သဘောတူကြပါသည်။

(ခ) မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ ငလျှင်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပိတ်ဆို့မှုများ၊ စစ်မက်ဖြစ်ပွားခြင်၊ သူပုန်ထခြင်းများ၊ အဓိကရုဏ်း ဖြစ်ခြင်း၊ အရပ်ဖက်နှောင့်ယှက်ဖျက်ဆီးခြင်း၊ ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မုန်တိုင်းတိုက်ခတ် ခြင်းနှင့် အခြားအလားတူ အကြောင်းများ ဖြစ်ပြီး၊ စာချုပ်ဝင်၏ ထိုက်သင့်သောဂရုပြုမှု၊ ဖွဲ့၊ လုံ့လတို့နှင့် ထိန်းချုပ်၍ မရပဲ ကျော်လွှား ရန်မတတ်စွမ်းနိုင်သော ဖြစ်ရပ်များကို ဆိုလိုပါသည်။

၁၄။ အနုညာတ စီရင်ဆုံးဖြတ်ခြင်း။

အကယ်၍ ဤအငှားသဘောတူစာချုပ်ပါ အချက်အလက်များနှင့်ပတ်သက်ပြီး၊ အကောင်အထည်ဖေါ်ဆောင်ရွက်ရာတွင်ဖြစ်စေ၊ အဓိပ္ပါယ်လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွါးမှုများ ဖြစ်ပေါ်လာပါက သဘောတူ စာချုပ်တွင် လက်မှတ်ရေးထိုးထားသည့် နှစ်ဦး နှစ်ဖက်စလုံးမှ ညှိနှိုင်းဆွေးနွေးခြင်းဖြင့်အငြင်းပွါးမှုများကိုပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက်အကျေအလည် ညှိနှိုင်းဆွေးနွေး၍မရရှိပါက မြန်မာနိုင်ငံအတွင်း၌ နှစ်ဦးနှစ်ဖက်အတွက် ခုံသမာဓိ လူကြီးတစ်ဦးစီခန့်ထားပြီး ညှိနှိုင်းဆွေးနွေးနိုင်ခွင့်ရှိသည်။ နှစ်ဦးနှစ်ဖက်မှ တင်မြှောက်ထားသော ခုံသမာဓိလူကြီးများမှအငြင်းပွါးမှုများကို၊ ပြေလည်အောင်ဖြေရှင်းပေးနိုင်ခြင်းမရှိခဲ့ပါက အဆိုပါခုံသမာဓိ

လူကြီးများ သဘောတူသော ဒိုင်လူကြီး၏ အဆုံးအဖြတ်ကို နှစ်ဖက်စလုံးမှ လက်ခံကြရမည်။ ၄င်းခုံသမာဓိလူကြီးများ၏ အဆုံးအဖြတ်မှာ ၁၉၄၄ ခုနှစ်၊ အနုညာတစီရင်ဆုံးဖြတ်ခြင်း၊ အက်ဥပဒေ (၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄) အရဖြစ်စေ၊ ဖြစ်ရပါမည်။ ခုံသမာဓိအဖွဲ့ ၏ ဖြေရှင်းဆုံးဖြတ်ရန်နေရာမှာ ရန်ကုန်မြို့၊ ပြည်ထောင်စုမြန်မာနိုင်ငံတွင် ဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ ကုန်ကျစရိတ်များကို၊ အမှုရှုံးသည့်ဘက်မှ ကျခံပေးဆောင်ရမည်။

**၁၅။ အကြောင်းကြားစာ။**

ဤ စာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများအား အောက်ဖေါ်ပြပါ လိပ်စာများအတိုင်း မြန်မာဘာသာဖြင့် ရေးသားပြီးလျှင် စာတိုက်မှ မှတ်ပုံတင် ချောစာဖြင့် ဖြစ်စေ သို့မဟုတ် တဲလက်စ်ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေ၊ နှစ်ဦးနှစ်ဖက် ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ ဆက်သွယ်ပေးပို့ရာတွင် သဘောတူစာချုပ် ချုပ်ဆိုစဉ်က လိပ်စာအတိုင်းသော်လည်းကောင်း၊ တစ်ဖက်မှအကြောင်းကြားလာသည့် အခြားလိပ်စာဖြင့်သော်လည်းကောင်း၊ ဆက်သွယ်ပေးပို့ရမည်။

လိပ်စာများမှာ -

| | | |
|---|---|---|
| (က)**"အငှားချထားသူ"** | (၁)အမည် | – အေးရှားဝေါလ် ကုမ္ပဏီလီမိတက် ဦးထွန်းမြင့်နိုင် (အုပ်ချုပ်မှုဒါရိုက်တာ) |
| | (၂)လိပ်စာ | – အမှတ်–၆၁/၆၂၊ ဗဟိုစည်အိမ်ယာ၊ ဝါးတန်းလမ်း၊ လသာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | (၃)ဖုံးအမှတ် | – |
| | (၄)ဖက်စ်နံပါတ် | – |
| (ခ)**"အငှားချထားခြင်းခံရသူ"** | (၁)အမည် | – ရန်ကုန် ပိုလီ အိတ် ကုမ္ပဏီလီမိတက် ဦးစိုင်းမြင့်သိန်း( အုပ်ချုပ်မှုဒါရိုက်တာ) |
| | (၂)လိပ်စာ | – အမှတ် (၃၉/၄၀)၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း ဗဟိုစည်အိမ်ရာ၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | (၃)ဖုံးအမှတ် | – |
| | (၄)ဖက်စ်နံပါတ် | – |

ယခုကဲ့သို့စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါတွင် ပေးပို့ခြင်းကို လက်ခံရယူသည့် ဖက်မှလက်ခံရရှိပြီးဖြစ်ကြောင်း အကြောင်းပြန်ကြားစာ ရရှိပြီးမှသာလျှင် ပေးပို့ခြင်းကိစ္စပြီး မြောက်ပြီးဖြစ်သည်ဟု အတည်ပြုနိုင်သည်။ အကယ်၍ တစ်ဖက်ဖက်မှ လိပ်စာ အပြောင်းအလဲ ရှိပါက စာဖြင့်ရေးသားပြီး အကြောင်းကြားစာကို ပေးပို့ရမည်။

## ၁၆။ ဓါတ်သတ္တုအရင်းအမြစ်များနှင့်ရတနာများ။

ဤ **"ငှားရမ်းသဘောတူကာလ"** အတွင်း ငှားရမ်းမှုပြုလုပ်ထားသော မြေနေရာတွင် မမျှော်မှန်းဘဲ၊ ငှားရမ်းမြေမှထွက်ပေါ်ရရှိလာသော ဓါတ်သတ္တုအရင်းအမြစ်များနှင့် ရတနာများသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်နှင့်သာ သက်ဆိုင်စေရမည်ဖြစ်ပြီး **"အငှားချထားသူ"** သည်၊ သက်ဆိုင်ရာမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းများသို့ဥပဒေနှင့်အညီ အကြောင်းကြားတင်ပြလွှဲပြောင်းပေးရမည်ဖြစ်သည်။

## ၁၇။ စာချုပ်ကို ပြန်လည်ညှိနှိုင်းခြင်း။

**"အငှားစာချုပ်"**တွင် မဖော်ပြမိခဲ့သော အချက်အလက် သို့မဟုတ် အခြေအနေ တစ်ရပ်ပေါ်ပေါက်ပြီး၊ စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက်တို့ ညှိနှိုင်းကြပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ကို ရယူလျက် စာချုပ်၏ အချက်အလက်နှင့် သတ်မှတ်ချက်များကို လိုအပ်ချက်အရ ပြင်ဆင် ညှိနှိုင်းကြရမည်။

## ၁၈။ စာချုပ်၏ တစ်စုတစ်ပိုင်းတည်း အစိတ်အပိုင်း။

ဤ **"အငှားစာချုပ်"** သည် ယင်း၏ နောက်ဆက်တွဲများနှင့် မြေပုံများသည် ဤစာချုပ်၏ တစ်စုတစ်ပေါင်းတည်း အစိတ်အပိုင်းတစ်ရပ် ဖြစ်စေရမည်။

## ၁၉။ ပတ်ဝန်းကျင်ကို ကာကွယ်ထိန်းသိမ်းခြင်း။

CMP (Contract, Manufacturing, Process) စနစ်ဖြင့် ပလတ်စတစ် အိပ်ပါးပစ္စည်းများ ထုတ်လုပ်သည့် စက်ရုံတွင် လုပ်ငန်းများဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရန် တာဝန်ရှိသည်။ **"အငှားချထားခြင်းခံရသူ"** သည် လေ၊ ရေ၊ မြေနှင့် ပတ်ဝန်းကျင်ကို ထိန်းသိမ်း၍ လိုအပ်သော ဆောင်ရွက်မှုများ၊ စီမံခန့်ခွဲမှုများပြုလုပ်၍ သဘာဝ ပတ်ဝန်းကျင်ကို အကာအကွယ်ပေးရမည်။ ၎င်းတို့၏ အစိတ်အပိုင်းပေါ်တွင် ဆောင်ရွက်မှု၊ လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့်၊ မည်သည့်လျော်ကြေး တောင်းဆိုမှုမျိုးကိုမဆို **"အငှားချထားသူ"** အပေါ်တွင် တာဝန်မရှိစေရ။ **"အငှားချထားခြင်းခံရသူ"** ကသာ ကျခံပေးချေရမည်။

## ၂၀။ အထွေထွေ

(က) ဤသဘောတူစာချုပ်တွင် ဖော်ပြပါရှိသော အချက်အလက်များသည် ယခင်ကသဘောတူညီချက်များ၊ စာချုပ်စာတမ်းများပါ အချက်အလက်များ၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့ စည်းမျဉ်းတွင် ပြဋ္ဌာန်းထားသောအချက်အလက်များနှင့် အဓိပ္ပါယ်ကွဲလွဲခြင်း၊ ရှေ့နောက်မညီမညွတ် ဖြစ်နေခြင်း များ ဖြစ်ပေါ်လာပါက ဤသဘောတူစာချုပ်တွင် ပြဋ္ဌာန်းထားသော အချက်အလက်များကိုသာအတည်ဖြစ်သည်ဟု မှတ်ယူရမည်။

(ခ) ဤ "အငှားစာချုပ်"ပါ အချက်အလက်များကို သိရှိသဘောပေါက် နားလည်ပြီး ဖြစ်သည့် အလျောက် ဤစာချုပ်သည် ယခင်ကအချင်းချင်း သဘောတူညီချက်များ၊ နားလည်မှုများ အားလုံးကို လွှမ်းမိုးသည်။

(ဂ) စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် ဤစာချုပ်အထက်တွင် ဖော်ပြထားသောရက်စွဲတွင် မိမိတို့ကိုယ်တိုင် ဖတ်ရှုနားလည်သဘောပေါက်၍ အောက်ပါအသိသက်သေများ ရှေ့မှောက်၌ လက်မှတ်ရေးထိုးကြပါသည်။

"အငှားချထားသူ"

ဦးထွန်းမြင့်နိုင်
အုပ်ချုပ်မှုဒါရိုက်တာ
အေးရှားဝေါ(လ်) ကုမ္ပဏီလီမိတက်

"အငှားချထားခြင်းခံရသူ"

ဦးစိုင်းမြင့်သိန်း
အုပ်ချုပ်မှုဒါရိုက်တာ
ရန်ကုန် ပိုလီ အိတ် ကုမ္ပဏီလီမိတက်

**အသိသက်သေများ**

(၁)

လက်မှတ် ..................
အမည် ဦးဇော်ထက်အောင်
မှတ်ပုံတင်အမှတ် ၇/အမရ(နိုင်)၀၀၁၁၆၁
နေရပ်လိပ်စာ အမှတ်(၇၄) ကျောက်မြောင်း တာမွေမြို့နယ်၊ ရန်ကုန်မြို့။

(၂)

လက်မှတ် ..................
အမည် ဦးကျော်ကော်လတ်
မှတ်ပုံတင်အမှတ် အမှတ်(၈၃) AA.
နေရပ်လိပ်စာ ဒီဂျီ(၅)လမ်း၊ (၂)ရပ်ကွက် လှိုင်မြို့နယ်

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်[illegible]

(က) ပေထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်[illegible] အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထား[illegible] သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ် ကာလအပိုင်း[illegible] စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤမြေငှားချုပ်ချုပ်ဆိုသည့်နေ့မှ ၆-လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ [illegible] ခွင့်ခံသော လူနေအိမ်၊ ဒေသန္တရ အာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီးစီးအောင် ဆောက်လုပ်ရန်နှင့် [illegible] အိမ်ကို အဆိုပါနှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသောရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များကမိလ္လာပိုက်နှင့် ရေပိုက်များ ချထားလျှင်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်[illegible]အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) [illegible] ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါ မြေကွက်ပေါ်၌ အဆောက်အအုံဝင်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် [illegible]ညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြား အတွင်း အဆိုပါမြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက် မှတစ်ပါး၊ အခြားကိစ္စအတွက် အသုံးမပြုရန်နှင့် အဆိုပါ မြေကွက်ပေါ် တွင် ဆောက်လုပ်သည့် လူနေအိမ်ကို [illegible]တစ်ပါး အခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းပြင် မပြုရသည့်ပြင် ငှားမြေ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤမြေငှားချုပ်နှင့် ရည်ရွယ်၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံသို့ဖြစ်စေ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်း ပင်ဖြစ်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤမြေငှားချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက် တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွဲကပ်ထားသော ပစ္စည်းမပါဝင်စေဘဲ၊ အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂-အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရုပ်သိမ်းလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွဲကပ် ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၂၀၀၇ ခုနှစ် အတွင်းတွင် ဖြစ်စေ
ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့မဟုတ် [illegible] ၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပေး ကျန်ရှိလျှင် သို့မဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထိုပြင် သို့တည်းမဟုတ် [illegible] ပဋိညာဉ်ခံ ချက် ပျက်ကွက်ခြင်း အတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊ အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ စွန့်လွှတ်သည့်ဟူ၍ ဤစာချုပ်ကို ပယ်ဖျက်၍ အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲတွဲကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

[illegible] စာချုပ်အရ အငှားချထားသည့်မည်သည့်စက်မှုလုပ်ငန်း [illegible] အဆိုပါမြေကွက်ပေါ်၌ စက်ရုံလုပ်ငန်းမှ ထွက်ရှိသည့် အသံ [illegible] ကောင်း၊ အမြင်အာရုံ ထည်းကောင်း၊ ပတ်ဝန်းကျင်အား [illegible] ပတ်ဝန်းကျင် ဆိုးကျိုးရှိကြောင်းစိစစ်တွေ့ရှိပါက၊ ဤစာချုပ်ကိုပယ်ဖျက် [illegible] မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံ [illegible]

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ် [illegible] ဦးစီးဌာန [illegible]

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ [illegible] သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် [illegible] နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာတိုက်မှ ပေးပို့နိုင်သည် [illegible] သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း [illegible] ၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ [illegible] ပစ္စည်းများ၏ [illegible] လူအများမြင်သာသော [illegible] နိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် [illegible] ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခ [illegible] သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို [illegible] နှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင် [illegible] သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ [illegible] ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆို [illegible] ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင် [illegible] ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူက နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည့်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်[illegible] တည်ဆောက်တွယ်ကပ်ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန်မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၂၂ ) ခုနှစ်၊ ဩဂုတ် လ၊ ( ၂၂ ) ရက်နေ့မှစ၍ ပထမတဆယ်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ [illegible] အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ် [illegible] ကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤ [illegible] ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သည့်ကြောင်း လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာ ဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့် နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှ ခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ်ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ [illegible] ၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

အိုးအိမ်ပုံစံ
အမှတ် - ၂၂

# ရန်ကုန်မြို့တော်

## မူရင်း

ဒဂုံ/တောင်

---မြို့နယ်၊ လူနေရပ်ကွက် စက်မှုဇုန်---

မြေပုံတိုင်းချပ်ကွက်အမှတ်---၅၃---မှ မြေကွက်အမှတ် ---၅၄၇-B---၏ မြေပုံ

၁ လက်မလျှင် ၃၀၀ ပေစကေး




ရည်ညွှန်းချက်

---ဧရိယာ စတုရန်းပေ ---၁၅၇၆၆၈---

ကေ ---၃.၆၂---

မြေတိုင်း (၄) မြေတိုင်း (၃) မြေတိုင်း (၂)

ဦးစီးအရာရှိ
မြေတိုင်းဌာနခွဲ
မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

**AYA BANK**
Your trusted partner

Printed time: 02/04/2015 3:09:08 AM

# DEPOSIT STATEMENT

**From: 01/03/2015 To: 02/04/2015**

| | | | |
|---|---|---|---|
| **Account Number:** | 0055103010000106 | **Currency** | **MMK** |
| **Name** | / YANGON POLY BAG CO.,LTD/Daw KHIN SAN OO/U KYAW ZIN LATT | | |
| **NRC** | /142563/12/-AU-KA-MA-(N)-101222/12/-LA-MA-TA-(N)-026686 | | |
| **Address** | #NO(39/40),BOGYOKE AUNG SAN STR,BAHOSI HOUSING,LANMADAW TSP.#BUILDING (38), ROOM (22), LANMADAW TSP, BAHOSI, YANGON#NO(124), YGN- INSEIN ST, (9) QTR, HLAING TSP, YGN. | | |

| No | Date | Cheque | TT | TC | Debit | Credit | Balance |
|---|---|---|---|---|---|---|---|
| | | | | | | BF | **109,950.00** |
| 1 | 31/03/2015 | | TR | TD | 0.00 | 12,000,000.00 | 12,109,950.00 |
| 2 | 31/03/2015 | | TR | TD | 0.00 | 15,000,000.00 | 27,109,950.00 |
| 3 | 31/03/2015 | | TR | TD | 0.00 | 13,000,000.00 | 40,109,950.00 |
| 4 | 31/03/2015 | | TR | TD | 0.00 | 150,000,000.00 | 190,109,950.00 |
| [illegible] | 31/03/2015 | | TR | TD | 0.00 | 20,000,000.00 | 210,109,950.00 |
| 6 | 31/03/2015 | | TR | TD | 0.00 | 15,000,000.00 | 225,109,950.00 |
| | | | | | | **BALANCE** | **225,109,950.00** |

| Previous Balance | + | Total Deposit | - | Total Withdrawals | = | Total Balance |
|---|---|---|---|---|---|---|
| **109,950.00** | + | **225,000,000.00** | - | **0.00** | = | **225,109,950.00** |

No. of Withdrawals =

No. of Deposit =

Unless the Bank is immediately notified of any discrepancy found in the statement of account it will be taken that the account has been found correct

CH = Cash

TR = Transfer

CL = Clearing

T/T = Type of Transaction

T/C = Type of Transaction code

Manager
Ayeyarwady Bank Limited
Yangon(14), Sawbyargyi Gone Branch

Printed time: 22/04/2015 6:08:26 AM

AYA BANK
Your trusted partner

# DEPOSIT STATEMENT
**From: 01/04/2015 To: 22/04/2015**

**Currency** **USD**

**Account Number:** 0080103030001659
**Name** / YANGON POLY BAG CO,LTD/DAW KHIN SAN OO/U KYAW ZIN LATT
**NRC** /5525/2014-2015/12/AUKAMA(N)101222/12/-LA-MA-TA-(N)-026686
**Address** #NO(39/40),BOGYOKE AUGN SAN RD,BAHOSI HOUSING,LANMADAW TSP,YGN#NO(61-62), BAHOSI DEVELOPMENT,WADAN ST, LANMADAW YANGON(WEST) YANGON#NO(124), YGN- INSEIN ST, (9) QTR, HLAING TSP, YGN.

| No | Date | Cheque | TT | TC | Debit | Credit | Balance |
|---|---|---|---|---|---|---|---|
| | | | | | | BF | 99.70 |
| 1 | 08/04/2015 | | TR | TD | 0.00 | 100,097.00 | 100,196.70 |
| | | | | | | BALANCE | 100,196.70 |

| Previous Balance | + | Total Deposit | - | Total Withdrawals | = | Total Balance |
|---|---|---|---|---|---|---|
| 99.70 | + | 100,097.00 | - | 0.00 | = | 100,196.70 |

No. of Withdrawals =

No. of Deposit =

Unless the Bank is immediately notified of any discrepancy found in the statement of account it will be taken that the account has been found correct

CH = Cash

TR = Transfer

CL = Clearing

T/T = Type of Transaction

T/C = Type of Transaction code

MANAGER
AYEYARWADY BANK LIMITED
YANGON (26)
IBD (FCA)

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 7th of *March* 2015.

on the 7th of *March* 2015. of the * *YANGON POLY BAG Co., Ltd.*

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .................... *10,000 Shares*

" " " " ....................

Nominal amount of the shares so allotted .................... *Ks- 1,000,000,000/-*

" " " " .................... *(Fully paidup)*

Amount paid or due and payable on cash such share .................... *Ks- 100,000/-*

" " " " ....................

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted ....................

Amount to be treated as paid on each such share ....................

The consideration for which such share have been allotted is as follow : -

---

**NOTE** In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.
2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

## Presented for filing by :

Name, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. U Sai Myint Thein<br>13/ Tha Pa Na (Naing)<br>033810 | No. (496/500), 3rd Floor,<br>(6) Ward, Strand Road,<br>Lanmadaw Township,<br>Yangon. | Managing<br>Director | | 8,000 |
| 2. U Kyaw Zin Latt<br>12/ La Ma Ta (Naing)<br>026686 | No.83/4A, Thiri- 5 Street,<br>(2) Ward, Hlaing Township,<br>Yangon. | Director | | 2,000 |
| | | Total | | 10,000 Shares |

Signature

Date 7 - 3 - 2015.

018722

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

**( Myanmar Companies Act, See Section 87 )**

Name of Company : *Yangon Poly Bag Company Limited.* Presented by : *U Sai Myint Thein (MD)*

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U Sai Myint Thein | Myanmar 13/Tha Pa Na (Naing) 033810 | No.496/500, 3rd Floor, Strand Road, Ward (6), Lanmadaw Township, Yangon. | Merchant | Appointed as Managing Director w.e.f 7-3-2015 |
| 2. U Kyaw Zin Latt | Myanmar 12/La Ma Ta (Naing) 026686 | No. 83/4A, Thiri- 5 Street, (2) Ward, Hlaing Township, Yangon. | Merchant | Appointed as Director w.e.f 7-3-2015 |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............................ and by writing against any former Director's name the the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ..........................................

Designation .......... SAI MYINT THEIN MANAGING DIRECTOR YANGON POLY BAG CO., LTD. ..........

Dated this 7-3-2015 ..............................................

Form (26)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

000131

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၅၅၂၅...... / ၂၀၁၄ - ၂၀၁၅

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ရန်ကုန် ပိုလီ အိတ် ကုမ္ပဏီ လီမိတက် ..............................................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ......၂၀၁၅...... နှစ်၊ ......ဖေဖော်ဝါရီ...... လ၊ ...၁၀... ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( နီလာမူ ၊ ဒုတိယညွှန်ကြားရေးမှူး )
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ..........5525.......... of 2014 - 2015

I hereby certify that ......YANGON POLY BAG COMPANY LIMITED...... is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Yangon this ..........TENTH.......... day of ......FEBRUARY, TWO THOUSAND AND FIFTEEN.......

For Director General
(Nilar Mu , Deputy Director)
Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဦးစိုင်းမြင့်သိန်း (၁၃/သပန(နိုင်)၀၃၃၈၁၀)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အမှတ်-၃၉/၄၀၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ဗဟိုစည်အိမ်ရာ၊ လမ်းမတော်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၁-၂၂၉၂၃၄၊ ၂၁၄၆၁၃၀၊ ၂၁၄၆၁၃၁

(ဃ) ဒါရိုက်တာများ အမည်စာရင်း- (၁) ဦးကျော်ဇင်လတ်
၁၂/လမတ(နိုင်)၀၂၆၆၈၆

မှတ်ချက်။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁၀-၂-၂၀၁၅ )မှ ( ၉-၂-၂၀၂၀ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စုဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေးဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(သင်းသင်းမြတ်၊ လက်ထောက်ညွှန်ကြားရေးမှူး)

လာရောက်ထုတ်ယူသည့် ရက်စွဲ၊ 17 FEB 2015

32၄၂
၅-၆-၁၅

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ရန်ကုန် ပိုလီ အိတ် ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# YANGON POLY BAG COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ရန်ကုန် ပိုလီ အိတ် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏အမည်သည် **ရန်ကုန် ပိုလီ အိတ် ကုမ္ပဏီ လီမိတက်** ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၄။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀၀၀၀၀၀၀၀ /-( ကျပ် **သန်းငါးထောင်** တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀.၀၀ /-( ကျပ် **တစ်သိန်း** တိတိ ) တန်အစုရှယ်ယာပေါင်း ( ၅၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

## ၅။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

၁။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၂။ သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၃။ တိရစ္ဆာန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာရောင်းဝယ်ခြင်း
၄။ ရေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၅။ ဓါတ်မြေသြဇာနှင့် ပိုးသတ်ဆေးများရောင်းဝယ်ခြင်း
၆။ ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများရောင်းဝယ်ခြင်း
၇။ စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများရောင်းဝယ်ခြင်း
၈။ အိမ်သုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၉။ လူသုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၀။ ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများရောင်းဝယ်ခြင်း
၁၁။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၂။ ယာဉ်နှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများရောင်းဝယ်ခြင်း
၁၃။ ကိရိယာတန်ဆာပလာအမျိုးမျိုးရောင်းဝယ်ခြင်း
၁၄။ ဆေးနှင့်ဆေးပစ္စည်းများရောင်းဝယ်ခြင်း
၁၅။ စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၆။ အထည်အလိပ်နှင့် အဝတ်အထည်များရောင်းဝယ်ခြင်း
၁၇။ စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများရောင်းဝယ်ခြင်း
၁၈။ ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူ ပစ္စည်းများရောင်းဝယ်ခြင်း
၁၉။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိပ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
၂၀။ (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
၂၁။ တိရိစ္ဆာန်မွေးမြူခြင်းနှင့် တိရိစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
၂၂။ ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
၂၃။ ဓါတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရိစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊
၂၄။ လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၅။ အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၆။ ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၇။ လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
၂၈။ ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
၂၉။ စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၀။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၁။ အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
၃၂။ အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
၃၃။ အေဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
၃၄။ ကြော်ငြာနှင့် ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
၃၅။ ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့် ပတ်သက်သည့် လုပ်ငန်းများ
၃၆။ ဆေးဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး၊
၃၇။ သယ်ယူပို့ဆောင်ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
၃၈။ ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်း၊
၃၉။ တိုင်းတာရေးနှင့် စစ်ဆေးရေး လုပ်ငန်း၊
၄၀။ စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ၊
၄၁။ စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
၄၂။ ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
၄၃။ လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက် ခြင်း လုပ်ငန်းများ၊
၄၄။ ဆောက်လုပ်ရေးလုပ်ငန်း
၄၅။ ကျောက်မျက်လုပ်ငန်း
၄၆။ ခရီးသွားလုပ်ငန်း
၄၇။ ဟိုတယ်လုပ်ငန်း
၄၈။ အသေးစားငွေရေးကြေးရေးလုပ်ငန်း

၆။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထား ရှိပါသည်။

